


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ ၀၁-၆၅၇၈၉၂၊ ၆၅၇၈၉၃
🖷 ၀၁-၆၅၇၈၉၂

စာအမှတ်၊ရကတ/ရနမ- ၂ /၂၀၁၈ ( ၁၃၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် မတ်လ ၂၁ ရက်

အကြောင်းအရာ။ **အေးရှားကင်းပါဝါ ကုမ္ပဏီ လီမိတက် (Asia King Power Company Limited) ၏ နောက်တွဲယာဉ်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအပေါ် ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ အေးရှားကင်းပါဝါ ကုမ္ပဏီ လီမိတက် (Asia King Power Company Limited) ၏ ၂၀၁၈ ခုနှစ် မတ်လ ၅ ရက်စွဲပါစာ

၁။ အေးရှားကင်းပါဝါ ကုမ္ပဏီလီမိတက် (Asia King Power Company Limited)၏ မြေကွက်အမှတ်-၁၀၅.A၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုလက်မှု၊ သာကေတ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ၀.၁၂၅ဧက (၅၀၅.၈၅၇၅စတုရန်းမီတာ)တွင် နောက်တွဲယာဉ်ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် မတ်လ ၇ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၄/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် အေးရှားကင်းပါဝါ ကုမ္ပဏီ လီမိတက် (Asia King Power Company Limited)အား နောက်တွဲယာဉ်ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ရကတ-၀၄၁ /၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ အေးရှားကင်းပါဝါ ကုမ္ပဏီ လီမိတက် (Asia King Power Company Limited)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည် -